# JEWELLERY LUCKY PRODUCTION CO., LTD.

## CAPITAL COST

(Kyats In Thousand) Exhibit No IX

| Sr No | | | Particulars | Kyat | US $ | Kyat |
|---|---|---|---|---|---|---|
| 1 | | | 2 | 3 | 4 | 5 |
| 1 | | | **INVESTMENT TYPE** | | | |
| | A | | **Local Capital** | | | |
| | | 1 | In Cash ( Kyats ) | 120000 | - | 120000 |
| | | 2 | Initial Raw (US $) | - | 333.65 | 2002 |
| | | 3 | In Building | 1106700 | - | 1106700 |
| | | 4 | In Machineries & Equipments | 1272700 | - | 1272700 |
| | | 5 | In Furniture | 20000 | - | 20000 |
| | | | **Total Capital** | **2519400** | **333.65** | **2521402** |

# JEWELLERY LUCKY PRODUCTION CO., LTD.
## RECOUPMENT PERIOD

(Kyats In Thousand) Exhibit No. X

| Sr No | | Particulars | | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Year 7 | Year 8 | Year 9 | Year 10 |
|---|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | | 2 | 3 | 4 | 5 | 6 | 7 | 8 | 9 | 10 | 11 | 12 | 13 |
| 1 | | **CASH IN FLOW** | | | | | | | | | | | |
| | 1 | Profit (Loss) After Tax | | 11744.38 | 220274.61 | 776581.76 | 623046.06 | 704225.88 | 704225.88 | 704225.88 | 704225.88 | 704225.88 | 704225.88 |
| | 2 | Depreciation | | 239940 | 239940 | 239940 | 239940 | 239940 | 239940 | 239940 | 239940 | 239940 | 239940 |
| | | | | 251684.38 | 460214.61 | 1016521.76 | 862986.06 | 944165.88 | 944165.88 | 944165.88 | 944165.88 | 944165.88 | 944165.88 |
| 2 | | **CASH OUT FLOW INVESTMENT** | | | | | | | | | | | |
| | 1 | In Cash | 120000 | | | | | | | | | | |
| | 2 | In Land | | | | | | | | | | | |
| | 3 | In Building | 1106700 | | | | | | | | | | |
| | 4 | Initial Raw (US $) | 2002 | | | | | | | | | | |
| | 5 | In Machineries & Equipments | 1272700 | | | | | | | | | | |
| | 6 | In Furniture | 20000 | | | | | | | | | | |
| 3 | | TOTAL NET PROFIT | -2521402 | 251684.38 | 460214.61 | 1016521.76 | 862986.06 | 944165.88 | 944165.88 | 944165.88 | 944165.88 | 944165.876 | 944165.876 |
| 4 | | OPENING BALANCE | | -2521402 | -2269717.62 | -1809503.01 | -792981.25 | 70004.81 | 3755.53 | 947921.41 | 1892087.28 | 2836253.16 | 3780419.04 |
| 5 | | ACCUMULATIVE NET PROFIT | **-2521402** | **-2269717.62** | **-1809503.01** | **-792981.25** | **70004.81** | **3755.53** | **947921.41** | **1892087.28** | **2836253.16** | **3780419.04** | **4724584.91** |

Note (1) Pay Back Period is 3 Years and 11 Months.

| | Kyats | Period |
|---|---|---|
| Year 1 To 3 | -792981.25 | 3 Years |
| Year 3 (792981.25/862986.06)* 12 Months | 792981.25 | 11 Months |
| | 0 | 3 Years & 11 Months |

## JEWELLERY LUCKY PRODUCTION CO., LTD.

## LOCAL KYAT SAVING & FOREIGN EXCHANGE SAVING

Exhibit No.XI

| .RTICULARS | UNIT | Year-1 | Year-2 | Year-3 | Year-4 | Year-5-10 |
|---|---|---|---|---|---|---|
| **;ome in US $** | US $ 000 | 4,438.09 | 4,841.34 | 8,046.82 | 8,331.57 | 8,616.32 |
| uivalent in Kyats | Ks 000 | | | | | |
| :al Sale in Kyats | Ks 000 | 1,649,727.00 | 2,005,937.50 | 3,317,101.00 | 3,502,700.50 | 3,688,300.00 |
| **:tal Income in Kyats** | **Ks 000** | **1,649,727.00** | **2,005,937.50** | **3,317,101.00** | **3,502,700.50** | **3,688,300.00** |
| **OREIGN EXCHANGE SAVING** | | | | | | |
| rning in US $ | US $ 000 | 4,438.09 | 4,841.34 | 8,046.82 | 8,331.57 | 8,616.32 |
| ost of Production FE | US $ 000 | | | | | |
| penditure in FE | US $ 000 | 2,000.00 | 2,205.00 | 3,805.00 | 3,982.00 | 4,160.00 |
| mmercial Tax | US $ 000 | 443.81 | 484.13 | 804.68 | 833.16 | 861.63 |
| orest Rehabilition | US $ 000 | 23.00 | 24.15 | 39.00 | 39.00 | 39.00 |
| :come Tax | US $ 000 | | | | 509.11 | 520.43 |
| **otal Expenditure in FE** | **US $ 000** | **2,466.81** | **2,713.28** | **4,648.68** | **5,363.27** | **5,581.06** |
| **FE Net Saving** | **US $ 000** | **1,971.28** | **2,128.06** | **3,398.14** | **2,968.30** | **3,035.26** |
| **LOCAL KYATS SAVING** | | | | | | |
| Local income in kyats | Ks 000 | | | | | |
| **Earning From Local Sales** | **Ks 000** | **1,649,727.00** | **2,005,937.50** | **3,317,101.00** | **3,502,700.50** | **3,688,300.00** |
| ost of Production in kyats | Ks 000 | 646,497.27 | 698,359.38 | 1,125,171.01 | 1,148,027.01 | 1,170,883.00 |
| .xpenditure in Kyats | Ks 000 | 763,106.75 | 859,841.38 | 1,195,314.25 | 1,249,396.13 | 1,296,718.00 |
| ncome Tax | Ks 000 | | | | 259,601.21 | 294,227.70 |
| **Total Expenditure in Kyats** | **Ks 000** | **1,409,604.02** | **1,558,200.75** | **2,320,485.26** | **2,657,024.34** | **2,761,828.70** |
| **Local Kyats Net Saving** | **Ks 000** | **240,122.98** | **447,736.75** | **996,615.74** | **845,676.16** | **926,471.30** |

**JEWELLERY LUCKY PRODUCTION CO., LTD.**

**INTERNAL RATE OF RETURN**

(In Million)
Exhibit No.XII

| Year | Investment (Cash Out Flow) | Net Profit | Depreciation | Total Cash In Flow | Cash Flow | DCF | | DCF | |
|---|---|---|---|---|---|---|---|---|---|
| | | | | | | DF 5% | DCF | DF 25% | DCF |
| 0 | 2521.4 | | | | -2521.400 | 1.000 | -2521.400 | 1.000 | -2521.400 |
| 1 | | 11.74 | 239.94 | 251.68 | 251.68 | 0.952 | 239.599 | 0.800 | 201.344 |
| 2 | | 220.27 | 239.94 | 460.21 | 460.21 | 0.907 | 417.410 | 0.640 | 294.534 |
| 3 | | 776.58 | 239.94 | 1016.52 | 1016.52 | 0.864 | 878.273 | 0.512 | 520.458 |
| 4 | | 623.04 | 239.94 | 862.98 | 862.98 | 0.823 | 710.233 | 0.410 | 353.822 |
| 5 | | 704.22 | 239.94 | 944.16 | 944.16 | 0.783 | 739.277 | 0.328 | 309.684 |
| 6 | | 704.22 | 239.94 | 944.16 | 944.16 | 0.746 | 704.343 | 0.262 | 247.370 |
| 7 | | 704.22 | 239.94 | 944.16 | 944.16 | 0.711 | 671.298 | 0.210 | 198.274 |
| 8 | | 704.22 | 239.94 | 944.16 | 944.16 | 0.677 | 639.196 | 0.168 | 158.619 |
| 9 | | 704.22 | 239.94 | 944.16 | 944.16 | 0.645 | 608.983 | 0.134 | 126.517 |
| 10 | | 704.22 | 239.94 | 944.16 | 944.16 | 0.614 | 579.714 | 0.107 | 101.025 |
| | | | | | | | **3666.928** | | **-9.752** |

Internal Rate of Return .=5+20(3666.928/3676.68)
.=5+20(0.99)
.=5+19.8
.=24.8%

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
## ရှေ့နေချုပ်ရုံး
## နေပြည်တော်

စာအမှတ်၊ ၂(၅)၁၄ -၁ /နပတ( ၄ )

ရက်စွဲ ၊ ၂၀၀၈ ခုနှစ်၊ ဇန်နဝါရီလ ၂ ရက်

အကြောင်းအရာ။ **သစ်အခြေခံလုပ်ငန်းသဘောတူစာချုပ်(မူကြမ်း)စိစစ်ရန်ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာ့သစ်လုပ်ငန်း၏ ၁၅-၁၂-၂၀၀၇ ရက်စွဲပါစာအမှတ်၊ စီ(၂၀၀၇)/ ၁၉၀၄/၉၀၀၀-၃၄

၁။ မန္တလေးတိုင်း၊ ကျောက်ဆည်ခရိုင်၊ စဥ့်ကိုင်မြို့နယ်၊ ဘယ်လင်းကျေးရွာတွင် မြန်မာနိုင်ငံသား ပိုင်ကံကောင်းခြင်းရတနာကုမ္ပဏီမှ ၁၀၀%ရင်းနှီးမြှုပ်နှံမှုဖြင့် သစ်အခြေခံစက်ရုံ တည်ဆောက်၍ သစ်အခြေခံကုန်ချောပစ္စည်းများထုတ်လုပ်ရန်အတွက် မြန်မာ့သစ်လုပ်ငန်းနှင့်ချုပ်ဆိုမည့် စာချုပ် (မူကြမ်း) ကိုစိစစ်ပေးပါရန် ရည်ညွှန်းစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ပူးတွဲပေးပို့လာသောစာချုပ်(မူကြမ်း)ကို လေ့လာစိစစ်၍ အောက်ပါအတိုင်းသုံးသပ်အကြံပြု အပ် ပါသည်-

(က) စာချုပ်(မူကြမ်း) အရ ကံကောင်းခြင်းရတနာကုမ္ပဏီလီမိတက်ကငင်းပိုင် မြေပေါ်တွင် ရာနှုန်း ပြည့်ရင်းနှီးမြှုပ်နှံ၍ သစ်အခြေခံကုန်ချောပစ္စည်းများထုတ်လုပ်ရာတွင် မြန်မာ့ သစ်လုပ်ငန်းမှကုန်ကြမ်းသစ်လုံးများကိုသတ်မှတ်ဈေးနှုန်းဖြင့် ဝယ်ယူမည်ဖြစ်ကြောင်း ၊ သစ်တောပြန်လည်ပြုစုပျိုးထောင်ရေးရန်ပုံငွေနှင့် မြန်မာ့သစ်လုပ်ငန်းသို့ နှစ်စဥ်ပေး သွင်းငွေများကို ပေးအပ်မည်ဖြစ်ကြောင်းနှင့် အဆိုပါသစ်အခြေခံကုန်ချောထုတ် လုပ်ငန်း ကိုကနဦး၁၅နှစ်ဖြင့် ဆောင်ရွက်မည်ဖြစ်ကြောင်းတွေ့ရှိရပါသည်၊

(ခ) စာချုပ်(မူကြမ်း)အပိုဒ်၇တွင်တည်ဆောက်ရေးကာလ(၁)နှစ်ကိုစာချုပ်လက်မှတ်ရေးထိုး သည့်နေ့မှစတင်ရေတွက်ရန်ဖြည့်စွက်ရေးသားပေးလိုက်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)အပိုဒ် ၁၉ တွင် နောက်ဆက်တွဲပုံစံများ၊ မြေပုံများဟုဖော်ပြထားသော် လည်းပြည့်စုံစွာမပါရှိသဖြင့် စာချုပ်လက်မှတ်ရေးထိုးသည့်အခါ နောက်ဆက်တွဲများ ပြည့်စုံစွာပူးတွဲထားရန် လိုအပ်ပါသည်၊

M-591/D/Branch 5/Wood (2-1-07)

(ဃ) လိုအပ်သောနေရာများတွင် မင်နီဖြင့်ပြင်ဆင်ဖြည့်စွက်ရေးသားပေးလိုက်ပါသည်။

၃။ ကံကောင်းခြင်းရတနာကုမ္ပဏီလီမိတက်သည်တရားဝင်ဖွဲ့စည်းထားသောကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိမရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူများသည် တရားဝင်လွှဲအပ်ခြင်းခံရသူများဟုတ် မဟုတ်စသည်တို့ကို ကြိုတင်စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်။

၄။ ဤစာချုပ်(မူကြမ်း)ကိုလက်မှတ်ရေးထိုးပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃) စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(အေးအေးကြည်၊ ညွှန်ကြားရေးမှူး)

မြန်မာ့သစ်လုပ်ငန်း

(မူကြမ်း)

# ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရ

# သစ်တောရေးရာဝန်ကြီးဌာန

# မြန်မာ့သစ်လုပ်ငန်း

# နှင့်

# ကံကောင်းခြင်းရတနာ ထုတ်လုပ်မှုကုမ္ပဏီလီမိတက်

# တို့အကြား ချုပ်ဆိုသည့်

# သစ်အခြေခံလုပ်ငန်းဆိုင်ရာ သဘောတူစာချုပ်

ရက်စွဲ။ ။ ၂၀၀၈ ခုနှစ်၊ လ၊ ရက်။

လျှို့ဝှက်

၄၂

# သစ်တောရေးရာဝန်ကြီးဌာန၊ မြန်မာ့သစ်လုပ်ငန်း
# နှင့်
# ကံကောင်းခြင်း ရတနာ ထုတ်လုပ်မှုကုမ္ပဏီလီမိတက်
# တို့အကြား ချုပ်ဆိုသည့်
# သစ်အခြေခံလုပ်ငန်းဆိုင်ရာ သဘောတူစာချုပ်

---

ဤစာချုပ်ကို ၂၀၀၇ ခုနှစ်၊------------လ၊-------ရက် နေ့၌ ရန်ကုန်တိုင်း၊ အလုံမြို့နယ်တွင် ရုံးတည်ရှိပြီး ဤစာချုပ်အလို့ငှာ ဦးဆောင်ညွှန်ကြားရေးမှူး ဦးဝင်းထွန်းကိုယ်စားပြုသော မြန်မာ့သစ်လုပ်ငန်း (နောင်တွင် 'လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ' ဟု ခေါ်ဆိုမည် ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်း၏ ဆက်ခံသူများ ဥပဒေအရ ခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများပါဝင်သည်) ကတစ်ဖက်

နှင့်

ရန်ကုန်တိုင်း၊ ဒဂုံမြို့နယ်၊ ဦးဝိစာရလမ်း၊ အမျိုးသားရေကူးကန်ဝင်း တွင် ရုံးတည်ရှိပြီး ဤစာချုပ်အလို့ငှာ အုပ်ချုပ်မှု ဒါရိုက်တာ ဦးကျော်စိန် ကိုယ်စားပြုသော ကံကောင်းခြင်း ရတနာထုတ်လုပ်မှုကုမ္ပဏီလီမိတက် (နောင်တွင် 'လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ' ဟု ခေါ်ဆိုမည် ဖြစ်ပြီး ယင်း စကားရပ်တွင် ၎င်း၏ ဆက်ခံသူများ ဥပဒေအရ ခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများ နှင့် တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်) တို့က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များနှင့် အညီ ဤစာချုပ်ကို ချုပ်ဆိုပါသည်။

## ၁။ ရည်ရွယ်ချက်

ဤစာချုပ် ချုပ်ဆိုသည့် ရည်ရွယ်ချက်မှာ အောက်ပါတိုင်းဖြစ်ပါသည်။

'လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ' သည် မန္တလေးတိုင်း၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ဘယ်လင်းကျေးရွာ၊ တောင်ရင်းကွင်း တွင် ဝယ်ယူထားသော မြေဧရိယာအကျယ်အဝန်း (၈. ၀၀)ဧက ပေါ်တွင် ၁၀၀ % ရင်းနှီးမြှုပ်နှံမှုဖြင့် ကျွန်းနှင့် သစ်မာ သစ်လုံးများကို အသုံးပြု၍ သစ်အခြေခံစက်ရုံ (Wood Base Industry Factory) ကို တည်ဆောက်ပြီး Formica အထပ်သား၊ Furniture ၊ ပါကေး၊ ကြိမ်နှင့်ဝါး၊ ပရိဘောဂနှင့် အခြားသစ် အခြေခံ ကုန်ချောပစ္စည်းများကို ထုတ်လုပ်သွားရန် ရည်ရွယ်ပါသည်။

## ၂။ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

'လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ' နှင့် 'လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ' တို့သည် သက်ဆိုင်ရာ တည်ဆဲဥပဒေများအရ ဖွဲ့စည်းထား၍ အခွင့်အာဏာအပ်နှင်းခြင်း ခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူများဖြစ်ပြီး ဤသဘောတူစာချုပ်ပါ လုပ်ငန်းကို လုပ်ကိုင်ခွင့်ရှိသော ပုဂ္ဂိုလ်များဖြစ်ကြောင်း နှင့် ဤစာချုပ်ကို ချုပ်ဆိုရန် အခွင့်အာဏာရှိသူများ၊ ငွေကြေးအင်အားတောင့်တင်းသူများ ဖြစ်ကြောင်း အသီးသီး ကိုယ်စားပြု တာဝန်ယူကြပါသည်။

## ၃။ လုပ်ငန်းဘောင်နှင့် လုပ်ဆောင်မှု ဖြစ်စဉ်

လုပ်ငန်းစဉ်အကျဉ်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိသူသည် မန္တလေးတိုင်း၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ဘယ်လင်းကျေးရွာ၊ တောင်ရင်းကွင်း တွင် ဝယ်ယူထားသော မြေဧရိယာအကျယ်အဝန်း (၈. ၀၀) ဧက ပေါ်တွင် ၁၀၀ % ရင်းနှီးမြှုပ်နှံ၍ ကျွန်းနှင့် သစ်မာသစ်လုံးများကို အသုံးပြု၍ သစ်အခြေခံစက်ရုံ (Wood Base Industry Factory) ကို တည်ဆောက်ပြီး Formica အထပ်သား၊ Furniture ၊ ပါကေး၊ ကြိမ် နှင့် ဝါး ပရိဘောဂနှင့် အခြားသစ်အခြေခံကုန်ချောပစ္စည်းများကို ထုတ်လုပ်သွားမည် ဖြစ်ပါသည်။

(ခ) ထုတ်လုပ်မည့်ပစ္စည်းများမှာ -

- Formica အထပ်သား၊ (Used By Automatic Machine)
- Furniture ၊
- ပါကေး၊
- ကြိမ် နှင့် ဝါး ပရိဘောဂများ၊
- အခြားသစ်အခြေခံ တန်ဖိုးမြှင့်ပစ္စည်းများ

(ဂ) လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိသူမှ အဆိုပါမြေဧကပေါ်တွင် လုပ်ငန်းမတည်ငွေရင်း ကျပ်သန်း (၂၅၂၁. ၄၀)ကို ရင်းနှီးမြှုပ်နှံ၍ တည်ဆောက်လုပ်ဆောင်သွားမည်ဖြစ်ပါသည်။

(ဃ) လုပ်ငန်းကာလမှာ တည်ဆောက်ရေးကာလတစ်နှစ်ပြည့်မြောက်သည့်နေ့မှ စ၍ ကနဦး (၁၅) နှစ် သတ်မှတ်ပါသည်။ အကယ်၍ နှစ်ဖက်ညှိနှိုင်းသဘောတူ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက် ရရှိပါလျှင် နောက်ထပ် (၅) နှစ်စီ နှစ်ကြိမ်တိုး၍ စုစုပေါင်း (၂၅) နှစ် ဖြစ်ပါသည်။

(င) ထို့နောက် နှစ်ဦးနှစ်ဖက် ညှိနှိုင်းပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ဖြင့် ဆက်လက်ဆောင်ရွက်သွားရန် ဖြစ်ပါသည်။

## ၄။ လုပ်ငန်း၏ တည်နေရာ

လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိသူမှ ဤစာချုပ်ပါ လုပ်ငန်းစဉ်များကို အကောင်အထည်ဖော်ရန် အလို့ငှာ မန္တလေးတိုင်း၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ဘယ်လင်းကျေးရွာ၊ တောင်ရင်းကွင်းတွင်ကံကောင်းခြင်းရတနာ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်မှ ပိုင်ဆိုင်သည့် မြေဧရိယာအကျယ်အဝန်း (၈. ၀၀) ဧက ပေါ်တွင် လုပ်ကိုင်ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

## ၅။ ဘဏ်အာမခံငွေ ( PERFORMANCE BANK GUARANTEE )

လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိသူမှ ဘဏ်အာမခံငွေဖြင့် လုပ်ငန်းမတည်ငွေရင်း ကျပ်သန်း(၂၅၂၁. ၄၀) ၏ (၁%) တစ်ရာခိုင်နှုန်းနှင့် ညီမျှသော(ကျပ်သန်း ၂၅. ၂၁)အား တည်ဆောက်ရေးလုပ်ငန်းများ လုပ်ဆောင်နေစဉ်အတွင်း မြန်မာသစ်လုပ်ငန်း အမည်ဖြင့် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကုန်သွယ်မှုဘဏ်တွင် သတ်မှတ်ထားသော ပုံစံနှင့်အညီ ဘဏ်အာမခံထားရှိပေးရမည်။ အဆိုပါဘဏ်အာမခံငွေကို ဤစာချုပ်လက်မှတ်ရေးထိုးပြီးနောက် ရက်ပေါင်း (၃၀) အတွင်းတင်သွင်းရမည်။ လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိသူသည် လုပ်ငန်းကို စတင်လုပ်ကိုင်သည့် အချိန်တွင် တင်သွင်းထားသည့် ဘဏ်အာမခံငွေကို ပြန်လည်ထုတ်ယူနိုင်ပါသည်။

## ၆။ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တာဝန်ဝတ္တရားများ

လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည်-

(က) လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူက လိုအပ်သော ခွင့်ပြုချက်များ၊ မှတ်ပုံတင်မှုများ၊ လိုင်စင်များ၊ အခြားလိုအပ်သည့် အချက်အလက်များကို သက်ဆိုင်ရာ ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ အဖွဲ့အစည်းများမှ ရယူရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(ခ) လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူက လုပ်ငန်းလုပ်ဆောင်ရာတွင် လိုအပ်သော စက်ယန္တရားများ၊ အသုံးအဆောင်များ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများအား ဥပဒေနှင့်အညီ ပြည်ပမှ တင်သွင်းရာတွင် လိုအပ်သော အကောက်ခွန် ရှင်းလင်းမှုနှင့် ဆိပ်ကမ်းထုတ်ယူမှုများ၌ လိုအပ်သလို ကူညီဆောင်ရွက် ပေးရမည်။

(ဂ) လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိသူက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ထံမှ သစ်အခြေခံစက်ရုံ (Wood Base Industry Factory) ဆိုင်ရာလုပ်ငန်းများအတွက် အခွန်အခကင်း လွတ်ခွင့်၊ သက်သာခွင့်နှင့်၊ အခြားအထူးခံစားခွင့်များ လျှောက်ထားရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(ဃ) လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိသူက နိုင်ငံတော်အဖွဲ့အစည်းများသို့ ပေးချေရမည့် အခွန်အခများအနက် နိုင်ငံခြားငွေဖြင့် ရရှိသောဝင်ငွေများကို နိုင်ငံခြားငွေဖြင့်လည်းကောင်း၊ မြန်မာငွေဖြင့် ရရှိသော ဝင်ငွေများကို မြန်မာငွေဖြင့်လည်းကောင်း ပေးချေနိုင်ရေးအတွက် ကူညီဆောင်ရွက်ပေးရမည်။

(င) လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိသူမှ သစ်တောဦးစီးဌာနသို့ ပေးသွင်းရမည့် သစ်တောစီမံလန်းစိုပြည်ရေး ရန်ပုံငွေ တွက်ချက်ရန်အတွက် ဘဏ္ဍာရေးနှစ်အလိုက် ရောင်းချပေးသော သစ်ပမာဏတန်ကို အတည်ပြုချက်ပေးရမည်။

၇။ လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ၏ တာဝန်ဝတ္တရားများ

လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူသည်-

(က) ခွင့်ပြုထားသောမြေပေါ်တွင် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူက အတည်ပြုပြီးသော ပုံစံဒီဇိုင်းများနှင့်အညီ အဆောက်အဦးများ အပါအဝင် အခြား မြို့ပြအင်ဂျင်နီယာလုပ်ငန်းအားလုံးကို စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ တစ်နှစ်အတွင်း အပြီး အစီး တည်ဆောက်ရန်နှင့် အကယ်၍ အဓိကပြုပြင်ပြောင်းလဲမှုများ ပြုလုပ်ရန် လိုအပ်ပါက လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူထံမှ စာဖြင့် ကြိုတင် သဘောတူညီ ချက်ရရှိပြီးမှသာ ဆောင်ရွက်ရမည်။

(ခ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ထံမှ ခွင့်ပြုချက်ရလျှင်ရချင်း လုပ်ငန်းအတွက် လိုအပ်သော ပြင်ဆင်မှုများကို စတင်ဆောင်ရွက်ရမည်။

(ဂ) ဤစာချုပ်ပါ ရင်းနှီးမြှုပ်နှံမှုနှင့် စီးပွားရေးလုပ်ဆောင်မှု အားလုံးကို ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများနှင့် အညီ အကောင်အထည်ဖော်ရမည်။

(ဃ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ (သို့) ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရသို့ ဤစာချုပ်အရ အကျုံးဝင်သော လုပ်ဆောင်မှုများနှင့် ပတ်သက်၍ သတင်းအချက်အလက်များကို အကြောင်းအားလျော်စွာ တောင်းခံလာတိုင်းတင်ပြရမည်။

(င) မြန်မာ့အာမခံဥပဒေနှင့်အညီ လိုအပ်သောအာမခံများ ထားရှိရမည်။

(စ) သစ်တောစိမ်းလန်းစိုပြည်ရေးရန်ပုံငွေ ( Forest Rehabilitation Fees) သို့ ထည့်ဝင်ငွေအဖြစ် မြန်မာ့သစ်လုပ်ငန်းမှ ရောင်းချပေးသော သစ်ပမာဏအပေါ်မူတည်၍ ကျွန်းသစ်လုံး တစ်တန်လျှင် အမေရိကန် ဒေါ်လာ (၈) နှင့် သစ်မာသစ်လုံးတစ်တန်လျှင် အမေရိကန်ဒေါ်လာ (၅) နှုန်းဖြင့် သစ်တောဦးစီးဌာနသို့ ပေးသွင်းရမည်။

(ဆ) မြန်မာ့သစ်လုပ်ငန်းမှ အများနည်းတူမဟုတ်သည့် သီးသန့်ကုန်ကြမ်း ရောင်းချပေးသည့် သစ်လုံးများဖြင့် ဤစာချုပ်ပါ လုပ်ငန်းရပ်များကို လုပ်ကိုင်၍ ရရှိသော Gross Income ၏ အနည်းဆုံး ၁ % ကို မြန်မာသစ်လုပ်ငန်းသို့ နှစ်စဉ်ပေးအပ်သွားမည်ဖြစ်ပါသည်။

၈။ စာချုပ်စတင်အကျိုးသက်ရောက်သောနေ့

ဤစာချုပ်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက် ရရှိပြီးနောက် အသိသက်သေများ ရှေ့တွင် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသော နေ့ရက်မှ စတင်အကျိုးသက်ရောက်မှု ရှိစေရမည်။

၉။ စာချုပ်သက်တမ်း

လုပ်ငန်းသက်တမ်းကာလ ကနဦး (၁၅) နှစ်ကို တည်ဆောက်ရေးကာလ တစ်နှစ်ပြည့်သည့်နေ့မှ စတင်ရေတွက်သွားမည်ဖြစ်သည်။

၁၀။ စာချုပ်ပြီးဆုံးခြင်း

ဤစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ စာချုပ်ပါလုပ်ငန်းများကို လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိသူက အပြည့်အဝ ပြီးဆုံးအောင် ဆောင်ရွက်ပြီး၍ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ အတည်ပြုချက် ရရှိပြီးသောအခါ စာချုပ်ပြီးဆုံးသည်ဟု မှတ်ယူရမည်။

၁၁။ ကြိုတင်စည်းကမ်းသတ်မှတ်ချက်

ဤစာချုပ်၏ အကျိုးသက်ရောက်မှုသည် ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း သက်ဆိုင်ရာအစိုးရအာဏာပိုင်များ ထံမှ လိုအပ်သည့် သဘောတူညီချက်၊ ခွင့်ပြုချက်များ ရရှိပြီးမှုပေါ်တွင် တည်ရှိပါသည်။

၁၂။ ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ခြင်း

လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူသည် ရေဆိုးများ သန့်စင်စေရန် စီမံခြင်း၊ ရေလွှတ်စနစ်များ ထားရှိခြင်းနှင့်အခြား သောပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာအစီအမံတို့ကို ပြည်ထောင်စု မြန်မာနိုင်ငံတော်ရှိ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

၁၃။ ဓာတ်သတ္တုအရင်းအမြစ်များ

ဤစာချုပ်ပါ လုပ်ငန်းဆောင်ရွက်စဉ်ကာလအတွင်း လုပ်ငန်းဆောင်ရွက်သည့် မြေမှ ဓာတ်သတ္တုအရင်း အမြစ်များ၊ ကျောက်မျက်ရတနာများ၊ သဘာဝသယံဇာတများ၊ ရှေးဟောင်းအနုပညာနှင့် ယဉ်ကျေးမှုပစ္စည်းများကို မမျှော်လင့်ဘဲ တွေ့ရှိလျှင် ထိုပစ္စည်းများကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရက ပိုင်ဆိုင်စေရမည်ဖြစ်ပြီး လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် သက်ဆိုင်ရာ မြန်မာနိုင်ငံအစိုးရအဖွဲ့အစည်းများသို့ လွှဲပြောင်းတင်ပြရမည်။ ထို့အပြင် အထက်ပါပစ္စည်းများအား နိုင်ငံတော်အစိုးရက လွတ်လပ်စွာ တူးဖော်ရယူပိုင်ခွင့်ရှိသည်။

၁၄။ စာချုပ်ရပ်စဲခြင်း

(က) ဤစာချုပ်ကို အောက်ဖော်ပြပါ အကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်လာပါက ရပ်စဲနိုင်သည်။

(၁) စာချုပ်ဝင်တစ်ဖက်ဖက်က စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်သဖြင့် တစ်ဖက်မှ ပြင်ဆင်ရန် တရားဝင်စာဖြင့် အကြောင်းကြားခဲ့သော်လည်း ရက်ပေါင်း (၃၀) အတွင်း ပြင်ဆင်ခြင်း မပြုသည့်အခါ

(၃) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် မလွန်ဆန်နိုင်သော ဖြစ်ရပ်တစ်ခုသည် တစ်ဆက်တည်း (၆)လထက် ကျော်လွန်ဖြစ်ပွားနေသည့်အခါ

(၄) စာချုပ်ရပ်စဲရန် နှစ်ဦးနှစ်ဖက်သဘောတူသည့်အခါ

(၂) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လူမွဲအဖြစ်ခံယူသည့်အခါ

(ခ) အထက်ပါ အကြောင်းများကြောင့် စာချုပ်ရပ်စဲရန် နှစ်ဦးနှစ်ဖက်သဘောတူလျှင် ဆောင်ရွက်ပြီးစီးသော လုပ်ငန်းများအတွက် စာချုပ်ဝင်နှစ်ဦးနှစ်ဖက် နစ်နာဆုံးရှုံးမှုမရှိစေရန် နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆောင်ရွက်သွားရမည်။

(ဂ) တစ်ဖက်ဖက်က စာချုပ်ရပ်စဲလိုလျှင် အခြားတစ်ဖက်သို့စာဖြင့် (၁)လ ကြိုတင်အကြောင်းကြားရမည်။

**၁၅။ မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

(က) ဤစာချုပ်အရ ဆောင်ရွက်ရမည့် တာဝန်ဝတ္တရားများကို မလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် တစ်စိတ်တစ်ဒေသဖြစ်စေ၊ လုံးဝဖြစ်စေ၊ မထမ်းဆောင်နိုင်လျှင် ထိုသို့မထမ်းဆောင်နိုင်သူက အခြားတစ်ဖက်သို့ (၁၅)ရက်အတွင်း ထိုမလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်ကြောင်းကို အသေးစိတ် စာဖြင့်ရေးသားအကြောင်း ကြားရမည်။ အခြားတစ်ဖက်က လက်ခံအတည်ပြုလျှင် တာဝန်ဝတ္တရားများ ထမ်းဆောင်ခြင်းကို ထိုမလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်နေစဉ်ကာလအတွင်း ဆိုင်းငံ့ထားနိုင်သည်။ ထိုမလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ကြန့်ကြာမှုအတွက် မည်သူ့တွင်မျှ တာဝန်မရှိစေရ။

(ခ) မလွန်ဆန်နိုင်သော ဖြစ်ရပ်ဆိုသည်မှာသဘာဝဘေးအန္တရာယ်များ၊ ငလျှင်လှုပ်ခြင်း၊သပိတ်မှောက်ခြင်း၊ ပိတ်ဆို့မှုများ ၊ သူပုန်ထခြင်းများ၊ အဓိကရုဏ်းဖြစ်ခြင်း၊ အရပ်ဖက်နှောက်ယှက်ဖျက်ဆီးခြင်း၊ ပေါက်ကွဲမှုဖြစ်ခြင်း၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မုန်တိုင်းတိုက်ခတ်ခြင်းနှင့်အခြားအလားတူအကြောင်းများဖြစ်ပြီး စာချုပ်ဝင်၏ ထိုက်သင့်သောဂရုပြုမှု၊ ဖွဲ၊ လုံ့လတို့နှင့် ထိန်းချုပ်၍မရဘဲ ဖြစ်ပွားပေါ်ပေါက်သည့် ကျော်လွှားရန် မစွမ်းဆောင်နိုင်သော ဖြစ်ရပ်များကို ဆိုလိုသည်။

**၁၆။ အနုညာတ စီရင်ဆုံးဖြတ်ခြင်း**

ဤသဘောတူစာချုပ်နှင့် ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာ ပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ ဖြေရှင်း၍ မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်စီက တစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးကရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်စေရမည်။ အနုညာတ စီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ ခုနှစ် ၊ မြန်မာနိုင်ငံ အနုညာတ စီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံအက်ဥပဒေအမှတ်- ၄ / ၁၉၄၄ ) နှင့် နောက်ပိုင်းထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတ စီရင်ဆုံးဖြတ်မည့် နေရာသည် ပြည်ထောင်စု မြန်မာနိုင်ငံ၊ ရန်ကုန်မြို့ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံရမည်။

**၁၇။ စာချုပ်အားပြင်ဆင်ဖြည့်စွက်ခြင်း**

ဤစာချုပ်အား စာဖြင့် နှစ်ဦးနှစ်ဖက်သဘောတူညီမှုမရဘဲ ပြင်ဆင်ဖြည့်စွက်ခြင်း လုံးဝမပြုလုပ်ရ။ သို့သော် ခိုင်မာသောကိစ္စတစ်ရပ်ရပ်ကြောင့် ဤစာချုပ်ကိုပြင်ဆင်ရန်လိုအပ်ပါက နှစ်ဦးနှစ်ဖက် စာဖြင့် သဘောတူညီချက်ရယူ၍ လိုအပ်သလိုပြင်ဆင်ဖြည့်စွက်နိုင်သည်။ ဤသဘောတူစာချုပ်အား ပြင်ဆင်ဖြည့်စွက်ချက်အရပ်ရပ်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်သည်။

**၁၈။ စာပေးစာယူပြုလုပ်ရန်လိပ်စာများ**

လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိသူနှင့် လုပ်ငန်းလုပ်ကိုင်ခွင့် ပြုသူတို့အကြား ဆက်သွယ်ခြင်း၊အကြောင်းကြား စာပေးပို့ခြင်းများကို အောက်ပါလိပ်စာအတိုင်း လိပ်မူရမည်။

**လုပ်ငန်းလုပ်ကိုင်ခွင့် ပြုသူအတွက်**

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့သစ်လုပ်ငန်း
အလုံမြို့နယ်
ရန်ကုန်မြို့။

**လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိသူအတွက်**

အုပ်ချုပ်မှု ဒါရိုက်တာ
ကံကောင်းခြင်းရတနာထုတ်လုပ်မှုကုမ္ပဏီလီမိတက်
အမျိုးသားရေကူးကန်ဝင်း၊ ဦးဝိစာရလမ်း၊
ဒဂုံမြို့နယ်၊ရန်ကုန်တိုင်း။

**၁၉။ နောက်ဆက်တွဲများ**

ဖော်ပြပါ နောက်ဆက်တွဲပုံစံများ၊ မြေပုံများသည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

**၂၀။ အထွေထွေ**

ဤစာချုပ်တွင် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့ လုံးလုံးလျားလျား သဘောပေါက်နားလည်မှုများ ပါရှိပြီး ဤစာချုပ်သည် ယခင်က အချင်းချင်း သဘောတူညီချက်များ၊ နားလည်မှုများ အားလုံးကိုလည်း လွှမ်းမိုးစေရမည်။

အထက်ပါ စည်းကမ်းချက်များကို နားလည်သဘောတူ လက်ခံကြသည့်အတိုင်း စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် ရန်ကုန်မြို့၌ အထက်တွင် ဖော်ပြထားသည့် ရက်၊ လ၊ ၂၀၀၇ ခုနှစ်တွင် အောက်ပါအသိသက်သေလူကြီးများ ရှေ့၌ မိမိတို့၏ တံဆိပ်များကို ရိုက်နှိပ်လျက် လက်မှတ်ရေးထိုး ချုပ်ဆိုကြပါသည်။

| လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူကိုယ်စား | လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူကိုယ်စား |
|---|---|
| (ဝင်းထွန်း)<br>ဦးဆောင်ညွှန်ကြားရေးမှူး<br>မြန်မာ့သစ်လုပ်ငန်း | (ကျော်စိန်)<br>အုပ်ချုပ်မှုဒါရိုက်တာ<br>ကံကောင်းခြင်းရတနာထုတ်လုပ်မှုကုမ္ပဏီလီမိတက် |

**အသိသက်သေများ**

| (၁) | (၂) |
|---|---|
| လက်မှတ် .................. | လက်မှတ် .................. |
| အမည် .................. | အမည် .................. |
| ရာထူး .................. | ရာထူး .................. |
| လိပ်စာ .................. | လိပ်စာ .................. |

မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ်
ရန်ကုန်မြို့။

သို့
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့သစ်လုပ်ငန်း

ရက်စွဲ။ ။ ၂၀၀၇ခုနှစ်၊ လ၊ ရက်။

အကြောင်းအရာ ။ ။**PERFORMANCE BANK GUARANTEE ကိစ္စ။**

၁။ "ကံကောင်းခြင်းရတနာ" ထုတ်လုပ်မှုကုမ္ပဏီလီမိတက်သည် မန္တလေးတိုင်း၊ကျောက်ဆည်ခရိုင်၊စဉ့်ကိုင်မြို့နယ်၊ဘယ်လင်းကျေးရွာ၊ တောင်ရင်းကွင်းမြေနေရာတွင် မြန်မာ့သစ်လုပ်ငန်းနှင့်ပူးပေါင်း၍ ၁၀၀%ရင်းနှီးမြှုပ်နှံမှုဖြင့် ကျွန်းနှင့်သစ်မာသစ်လုံးများကိုအသုံးပြု၍ သစ်အခြေခံစက်ရုံကိုတည်ဆောက်ပြီး ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ "ကံကောင်းခြင်းရတနာ" ထုတ်လုပ်မှုကုမ္ပဏီလီမိတက်နှင့်မြန်မာ့သစ်လုပ်ငန်းတို့သည် ၂၀၀၇ခုနှစ်၊ လ၊ ရက်တွင် လုပ်ငန်းဆိုင်ရာ သဘောတူစာချုပ် အမှတ် ကို ချုပ်ဆိုခဲ့ပါသည်။

၂။ ဤစီမံကိန်းလုပ်ငန်းအတွက် ကျပ်ငွေ ၂၅၂၁၄၀၂၀/-(ကျပ်နှစ်ဆယ့်ငါးသန်းနှစ်သိန်းတစ်သောင်းလေးထောင်နှစ်ဆယ်တိတိ)ကို **PERFORMANCE BANK GUARANTEE** အဖြစ် "ကံကောင်းခြင်းရတနာ" ထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်တွင် မြန်မာ့သစ်လုပ်ငန်းအမည်ဖြင့် ဘဏ်စာရင်းဖွင့်လှစ်ထားရှိပြီးဖြစ်ပါသည်။

၃။ ဘဏ်အာမခံကြေးငွေကို လုပ်ငန်းစီမံကိန်းစတင်ဆောင်ရွက်မှုနှင့် လုပ်ငန်းအကောင်အထည်ဖော်မှုအပေါ်မူတည်၍မြန်မာ့သစ်လုပ်ငန်း၏ သဘောတူညီချက်ဖြင့်"ကံကောင်းခြင်းရတနာ" ထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ပြန်လည်ထုတ်ယူခွင့်ရှိပါသည်။

မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ်
ရန်ကုန်မြို့။

မှတ်(၁၃)

## တိုင်းအေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ

## မန္တလေးတိုင်း ၊ မန္တလေးမြို့

### လယ်ယာမြေကို သတ်မှတ်သည့်နည်းလမ်းအတိုင်း အသုံးချရန် ဆင့်ဆိုသည့်အမိန့်

( အမိန့်အမှတ် ၊ ၂၁ / ၂၀၀၇ )

၁၃၆၉ ခုနှစ် ၊ တန်ဆောင်မုန်းလဆန်း( ၄ )ရက်

၂၀၀၇ ခုနှစ် ၊ နိုဝင်ဘာလ( ၁၃ )ရက်

၁၉၅၃ ခုနှစ် ၊ လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေးအက်ဥပဒေပုဒ်မ - ၃၉ အရ လယ်ယာမြေကို သတ်မှတ်သည့်နည်းလမ်းအတိုင်း အသုံးချစေရန် ဆင့်ဆိုပေးပိုင်ခွင့်ကိစ္စနှင့် စပ်လျဉ်း၍ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့ရုံး၏ (၂၂-၁၁-၈၈)ရက်စွဲပါစာအမှတ် ၊ ၁၀/၆၀၁-ဆ/အဖရ ဖြင့် လုပ်ပိုင်ခွင့်အာဏာအပ်နှင်းချက်အရ အောက်ပါဇယားတွင် ဖော်ပြသည့်လယ်ယာမြေကို စိုက်ပျိုးမှုမှအပ စာတိုင်(၈) တွင် ဖော်ပြသောနည်းလမ်းအတိုင်း အသုံးချရမည်ဖြစ်ကြောင်း ဦးကျော်စိန် ၊ ပြည်ကြီးတံခွန်မြို့နယ်အား ခွင့်ပြုလိုက်သည် -

| တိုင်း | မြို့နယ် | ကျေးရွာအုပ်စု | ကွင်းအမှတ် | | ဦးပိုင်/ဧရိယာ | | အသုံးချရမည့်နည်းလမ်း | တယကရုံးအမှုတွဲအမှတ် |
|---|---|---|---|---|---|---|---|---|
| | | | အမှတ် | အမည် | အမှတ် | ဧက | | |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| မန္တလေး | စဉ့်ကိုင် | တောင်ရင်း | ၁၁၇ | တောင်ရင်း | ၂၃၄၊ ၂၅၆၊ ၂၅၇၊ ၂၅၈၊ ၂၅၉ | ၆. ၄၉ | သစ်အမျောထည့် | ၂၂/ ၂၀၀၇ |
| | | | | | ဒ္ဓိအေ | ၁. ၅၁ | စက်ရုံမြေနေရာ | |
| | | | | | စုစုပေါင်း | ၈. ၀၀ | | |

မှတ်ချက်။ (က) ဤဇယားတွင်ဖော်ပြသော လယ်ယာမြေကို မြေစာရင်းဦးစီးဌာနစာရင်းတွင် သစ်အချောထည်စက်ရုံမြေ အဖြစ်ပြောင်းလဲရန် ၁၉၅၄ ခုနှစ် ၊ လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေး နည်းဥပဒေပုဒ်မ - ၈၄ အရ ခွင့်ပြုသည်။

(ခ) ဤဇယားကွက်(၈)၌ ဖော်ပြသော နည်းလမ်းအတိုင်း လယ်ယာမြေကို အသုံးမချလျှင် ဤအမိန့်ကို လိုက်နာရန်ပျက်ကွက်သူသည် အက်ဥပဒေပုဒ်မ - ၄၈ အရ ပြစ်ဒဏ်ချမှတ်ခြင်းခံရမည်။

(ဂ) အထက်ဖော်ပြပါ ဦးပိုင်အမှတ်နှင့် ဧရိယာများကို ၂၀၀၇-၂၀၀၈ခုနှစ် နောက်ဆက်တွဲမြေပုံစာရင်းများမှ ကောက်နုတ်သုံးစွဲသည်။

ဥ အ ဒ (နှင်း)

( ဦးခင်မောင်သန်း ၊ အတွင်းရေးမှူး )

စာအမှတ် ၊ ၅ / ၄၃ - ၂၃၇ / ဦး ၆ (၄၄၄၈)

ရက် စွဲ ၊ ၂၀၀၇ ခုနှစ် ၊ နိုဝင်ဘာလ ၁၃ ရက်

မိတ္တူကို

(၁) လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန ၊ နေပြည်တော်

(၂) တိုင်းအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန ၊ မန္တလေးမြို့

(၃) တိုင်းမြေစာရင်းဦးစီးဌာန ၊ မန္တလေးမြို့ ( သက်ဆိုင်ရာမြေစာရင်းမြေပုံတွင်မှတ်သား ရေးသွင်းနိုင်ရေးအတွက် ညွှန်ကြားပေးသွားရန် )

(၄) ခရိုင်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ၊ ကျောက်ဆည်မြို့

(၅) ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန ၊ ကျောက်ဆည်မြို့

(၆) ခရိုင်မြေစာရင်းဦးစီးဌာန ၊ ကျောက်ဆည်မြို့

(၇) မြို့နယ်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ၊ စဉ့်ကိုင်မြို့နယ်

(၈) မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန ၊ စဉ့်ကိုင်မြို့နယ်

(၉) မြို့နယ်မြေစာရင်းဦးစီးဌာန ၊ စဉ့်ကိုင်မြို့နယ်

(၁၀) ကျေးရွာအုပ်စုအေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ၊ တောင်ရင်းကျေးရွာအုပ်စု၊ စဉ့်ကိုင်မြို့နယ်

(၁၁) လျှောက်ထားသူ -

ဦးကျော်စိန်
၁၃/လရန(နိုင်)၀၅၉၆၃၆
C1,C2 ၊ စက်မှုပန်းခြံလမ်း
ပြည်ကြီးတံခွန်မြို့နယ်

သစ်တောရေးရာဝန်ကြီးဌာနမှ ကျောက်ဆည်ခရိုင်အတွင်း သစ်အချောထည်စက်ရုံ
တည်ဆောက်မည့် ခန့်မှန်းမြေနေရာပြမြေပုံ




စက်ရုံတည်ဆောက်မည့်ခန့်မှန်းမြေနေရာ (ယာမြေ ၈ ဧက)

စက်ရုံတည်ဆောက်မည့် တိုးချဲ့လျှောက်ထားလိုသည့် မြေနေရာ (၄၅.၈၀ ဧက)

# PLAN VIEW OF KYAUK SE WOOD PRODUCT FACTORY




- Director(Upper Myanmar) ..................
- GM(Kse;) ..................
- GM(Pro;) ..................
- GM(Mdy;) ..................
- DGM(M&E) ..................
- Manager(M&E) ..................

Notes

Figure - MD's order

Create -14:10 03/01/2008

LEGEND

HOUSING

HOSTEL

CANNEL

ROAD

NEXT PLANNING

SCALE

=50'x50'

DRAW BY TIN KO OO

# PLAN VIEW OF KYAUK SE WOOD PRODUCT FACTORY




Tin Ko Oo

- Director(Upper Myanmar) ..................
- GM(Kse;) ..................
- GM(Pro;) ..................
- GM(Mdy;) ..................
- DGM(M&E) ..................
- Manager(M&E) ..................

ပြုတ်ကန်

သံလမ်းပြေး ကရိန်း

သစ်လုံးရေစိမ်ကန်နှင့်ရေစုမြောင်း

ရေစင်

လျာထားချက်(လက်ရှိ နေလှန်းကွင်း)

# POLY PLYWOOD FACTORY




DRAW BY TIN KO OO

- ၂၆ (26) - - ၂၇ (27) -

# မြန်မာနိုင်ငံခြား ကုန်သွယ်မှုဘဏ်

## MYANMA FOREIGN TRADE BANK

| စဉ် SR. | ရက်စွဲ DATE | အကြောင်းအရာ PARTICULARS | သွင်းငွေ DEPOSIT | ထုတ်ငွေ WITHDRAWAL | လက်ကျန်ငွေ BALANCE US.$ | လက်မှတ် SIGNATURE |
|---|---|---|---|---|---|---|
| | B/F | | | | 388717.88 | |
| | 28.12.07 | TT 32E CHPE 00616 | | 50,000 | | |
| | 1 | | | 125 | 338,592.88 | |
| Bal. | US$ Three | hundred | thirty eight | thousand five | hundred ninety two [illegible] | |
| | 1.1.08 | TDD.04.99824 | 53440 | | 392032.88 | |
| Bal. | US$ Three | hundred | ninety | two thousand thirty | | [illegible] |
| | | | | | | |
| | | | | | | |
| | | | | | | |
| | | | | | | |
| | | | | | | |

**JEWELLERY LUCKY PRODUCTION COMPANY LIMITED.**

JLC

NATIONAL SWIMMING POOL COMPOUND, U WISARA ROAD,
DAGON TOWNSHIP, YANGON, MYANMAR.
TEL : 243130, 243131, 243134, 243135 FAX : 95-1-243096

Ref :

Date :

## အစည်းအဝေးမှတ်တမ်း

| | |
|---|---|
| ကျင်းပသည့်နေ့ | ၂၀၀၇ ခုနှစ်၊ ဇန်နဝါရီလ (၇)ရက်။ |
| ကျင်းပသည့်အချိန် | ၉း၃၀ နာရီ |
| ကျင်းပသည့်နေရာ | **JEWELLERY LUCK CO., LTD** အစည်းအဝေးခန်းမ |

### တက်ရောက်သူများ

၁။ ဦးကျော်စိန်
၂။ ဦးစိုင်းအောင်သန်း
၃။ ဦးတင်ညွန့်
၄။ ဦးစိန်ဝင်း
၅။ ဦးသောင်းထိုက်မင်း
၆။ ဒေါ်ရှောက်ဖိန်
၇။ ဒေါ်ခင်မြတ်မွန်

### အစည်းအဝေးဆုံးဖြတ်ချက်များ

**JEWELLERY LUCK CO., LTD** ၏ အစုရှယ်ယာဝင်များဖြင့်ပါဝင်ဖွဲ့စည်းသည့် **JEWELLERY LUCKY PRODUCTION CO., LTD** သည် ကျောက်ဆည်ခရိုင်တွင် သစ်အခြေခံပစ္စည်းထုတ်လုပ်သည့် စက်ရုံတည်ဆောက်၍လုပ်ငန်းများဆောင်ရွက်ရာတွင် လိုအပ်သည့်အမေရိကန်ဒေါ်လာများကို လတ်တလောဘဏ်စာရင်းမဖွင့်ရသေးသဖြင့် **JEWELLERY LUCK CO., LTD** ၏ မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ်တွင် ဘဏ်စာရင်းအမှတ် **IDA 04 93265** ဖြင့် ဖွင့်လှစ်ထားသောဘဏ်စာရင်းမှ ထုတ်ယူသုံးစွဲရန်သဘောတူညီခြင်း ရှိမရှိကို ဆွေးနွေးကြပါသည်။

### အစည်းအဝေးဆုံးဖြတ်ချက်

အထက်ပါဆွေးနွေးချက်ကို ဒါရိုက်တာများအားလုံး သဘောတူညီကြကြောင်းဆုံးဖြတ်ကြပါသည်။

မှတ်တမ်းတင်သူ

U TIN NYUNT
DIRECTOR
JEWELLERY LUCKY PRODUCTION CO.,LTD.

JLC

**JEWELLERY LUCKY PRODUCTION COMPANY LIMITED.**

NATIONAL SWIMMING POOL COMPOUND, U WISARA ROAD,
DAGON TOWNSHIP, YANGON, MYANMAR.
TEL : 243130, 243131, 243134, 243135 FAX : 95-1-243096

*Ref :* *Date :*

## မီးဘေးကြိုတင်ကာကွယ်မှု အထောက်အထားတင်ပြခြင်း

ကျွန်တော်တို့ **JEWELLERY LUCKY PRODUCTION CO., LTD.** အနေဖြင့် ကျွန်းနှင့်သစ်မာသစ်လုံးများကို အသုံးပြု၍ သစ်အခြေခံကုန်ချောများထုတ်လုပ်သည့်စက်ရုံတည်ဆောက်ပြီး သစ်အခြေခံကုန်ချောပစ္စည်းများကို ထုတ်လုပ်ခြင်းလုပ်ငန်းလုပ်ကိုင်ရန်အတွက်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီခွင့်ပြုမိန့်လျှောက်ထားခြင်းဖြစ်ပါသည်။

ကျွန်တော်တို့၏ ကုမ္ပဏီအနေဖြင့် လုပ်ငန်းလုပ်ကိုင်ရာတွင်မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်မှုအနေဖြင့် ရေဂါလံ(၅၀၀၀၀)ဆန့် ရေလှောင်ကန်ကို တည်ဆောက်ထားရှိမည်ဖြစ်ပါသည်။ စက်ရုံအဆောက်အအုံမှာလည်း မီးလောင်မှုမှ ကာကွယ်ရန် သံကူကွန်ကရစ် (R.C) ဖြင့်တည်ဆောက်ထားပြီး ရေပုံး၊မီးကပ်၊ သဲအိတ်၊ မီးသတ်ဘူးများကို အဆင်သင့်ထားရှိမည်ဖြစ်ပါသည်။စက်ရုံရှိနံရံများတွင် မီးသတ်ဘူးများချိတ်ဆွဲထားရှိမည်ဖြစ်ပါသည်။ထို့ပြင် စက်ရုံတွင် မီးဘေးအန္တရာယ်အတွက်စည်းကမ်းချက်များ ချမှတ်ထားပြီး ယင်းတို့ကို ဝန်ထမ်းများ တိကျစွာ လိုက်နာဆောင်ရွက်ရန်လည်း စီမံထားရှိပါသည်။ဝန်ထမ်း များကို လည်းမီးဘေး အရေးပေါ် ကာကွယ်နိုင် ရန်မီး သတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးမည်ဖြစ်ပါသည်။ စက်ရုံ အတွင်းနှင့် အနီးပတ်ဝန်း ကျင်တွင် ဆေးလိပ် သောက်ခြင်းကို တင်းကျပ်စွာတားမြစ်ထားရှိခြင်းနှင့်လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ် အောင်လည်း ဆောင်ရွက်ထားရှိမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

U KYAW SEIN
MANAGING DIRECTOR
JEWELLERY LUCKY PRODUCTION CO.,LTD.

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ၁၀၀၂ / ၂၀၀၇-၂၀၀၈

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ကံကောင်းခြင်းရတနာထုတ်လုပ်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၂၀၀၇ နှစ်၊ နိုဝင်ဘာ လ၊ ၂၀ ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

စက်မှု/ထုတ်လုပ်မှု
INDUSTRIAL, PRODUCTION

ခင်စိုး
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ကုမ္ပဏီများမှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင်ရုံး

---

THE GOVERNMENT OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. 1002 of 2007 - 2008

I hereby certify that JEWELLERY LUCKY PRODUCTION COMPANY LIMITED is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Nay Pyi Taw this TWENTIETH day of NOVEMBER, TWO THOUSAND AND SEVEN.

စက်ရုံ အသုံးချ တည်ရှိရာအရပ်သည်
စက်မှုဇုန် ... ဖြစ်စေရမည်။
(မြို့ပြင်) ... ရပ်ကွက်နှင့် ကင်း
လွတ်ရာ အရပ်၌ ဖြစ်စေရမည်။

KHIN SOE
DIRECTOR GENERAL
Directorate of Investment And Company Administration
Registrar of Joint Stock Companies
Companies Registration Office

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ
အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
(ကုမ္ပဏီများ မှတ်ပုံတင်ရုံး)

စာအမှတ်၊ ၇က-ဂ(ဂ) ၀၀၁ /၂၀၀၇ ( ၉၆၃၆ )
ရက်စွဲ၊ ၂၀၀၇ခုနှစ်၊ နိုဝင်ဘာ လ (၂၁ )ရက်

အကြောင်းအရာ။ ။ <u>ကုမ္ပဏီ မှတ်ပုံတင်လက်မှတ်ထုတ်ပေးခြင်း။</u>

၁။ ကံကောင်းခြင်း ရတနာထုတ်လုပ်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်က မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေနှင့်အညီ မှတ်ပုံတင်ခွင့် လျှောက်ထားခဲ့ရာ၊ ဤရုံးတွင် မှတ်ပုံတင် အမှတ်ဖြင့် ၁၀၀၂/၂၀၀၇-၂၀၀၈ (၂၀-၁၁-၀၇)နေ့၌ ပေးရန် တာဝန်ခွဲဝေကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီအဖြစ် မှတ်ပုံတင်ထားပြီး ဖြစ်ပါ၍၊ ဤမှတ်ပုံတင် လက်မှတ်ကို ထုတ်ပေးလိုက်သည်။

၂။ အဆိုပါ မှတ်ပုံတင်လက်မှတ်သည် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ကံကောင်းခြင်း ရတနာထုတ်လုပ်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် အမည်ကို တရားဝင်အသုံးပြုရန်အတွက်သာ ထုတ်ပေးခြင်းဖြစ်ပြီး၊ သင်းဖွဲ့ မှတ်တမ်း ရည်ရွယ်ချက်ပါ လုပ်ငန်းများကို လုပ်ကိုင်ခွင့်ပေးခြင်းမဟုတ်ပါ၊ သို့ဖြစ်၍ ယင်းလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ရာတွင် တည်ဆဲ ဥပဒေ စည်းမျဉ်း စည်းကမ်းများနှင့်အညီ လိုက်နာဆောင်ရွက်ကြရန် ဖြစ်ကြောင်း သိသာပါရန် ဖော်ပြပါသည်။

၃။ ဤကုမ္ပဏီမှ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ တည်ထောင်ခွင့်ပြုပြီးသော ကုမ္ပဏီဖြစ်သည့်အလျောက်ယင်းဥပဒေအရပူးတွဲပါအချက်အလက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ရန် ဖြစ်ကြောင်း ဖော်ပြပါသည်။

၄။ ဤကုမ္ပဏီ မှတ်ပုံတင်လက်မှတ်၏ သက်တမ်းသည် (၂)နှစ်သာ ဖြစ်ပါသည်။ သက်တမ်း မကုန်ဆုံးမီ (၃)လ အလိုတွင် သက်တမ်းတိုးရန် ဤဌာနသို့ တင်ပြလျှောက်ထားရမည် ဖြစ်ပါသည်။

ကုမ္ပဏီများ မှတ်ပုံတင်အရာရှိ (ကိုယ်စား)
( နန်းငွေငွေသန်း - လက်ထောက်မှတ်ပုံတင်အရာရှိ)

အဆိုပြုဒါရိုက်တာ
ကံကောင်းခြင်း ရတနာထုတ်လုပ်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်
အမျိုးသား ရေကူး ကန်ဝင်း ၊
ဦးဝိစာရလမ်း ၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။

## မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ တည်ထောင်ခွင့်ပြုပြီးသော ကုမ္ပဏီများ လိုက်နာဆောင်ရွက်ရန် အချက်များ

၁။ လုပ်ငန်းစတင်ဆောင်ရွက်နိုင်ရန် အစုရှယ်ယာများ ခွဲဝေရောင်းချပြီး၊ ရောင်းချသည့်နေ့မှ တစ်လအတွင်း ပုံစံ(၆) ဖြင့် မှတ်ပုံတင်ကြေးငွေ ၇၅/- ပေးသွင်းပြီး မှတ်ပုံတင်ရန်၊ (ပုဒ်မ-၁၀၄)

၂။ ဒါရိုက်တာများ/ မန်နေဂျာများ ခန့်ထားခြင်းကို ပုံစံ (၂၆) ဖြင့် ခန့်ထားပြီး၊ (၁၄) ရက်အတွင်း မှတ်ပုံတင်ကြေး ၇၅/- ပေးသွင်းကာ မှတ်ပုံတင်ရန်၊ နုတ်ထွက်ခြင်းနှင့် အခါအားလျော်စွာဖြင့် ပြောင်းလဲချက်များအတွက် လက်မှတ်ပုံစံ(၂၆)ဖြင့်ပင် ပြောင်းလဲမှုဖြစ်သည့်နေ့မှ (၁၄)ရက်အတွင်း မှတ်ပုံတင်ကြေးငွေ ၇၅/-ပေးသွင်းပြီး မှတ်ပုံတင်ရန်၊ (ပုဒ်မ-၈၇)

၃။ ကုမ္ပဏီ၏ လုပ်ငန်းတည်နေရာ/လုပ်ငန်းခွဲ တည်နေရာ ပြောင်းလဲရာတွင် ပြောင်းလဲသည့်နေ့မှစ၍ (၂၈) ရက် အတွင်း သတ်မှတ်ပုံစံဖြင့် မှတ်ပုံတင်ကြေးငွေ ၇၅/- ပေးသွင်းပြီး မှတ်ပုံတင်ရန်၊ (ပုဒ်မ-၇၂)

၄။ ပထမအကြိမ် အထွေထွေအရပ်ရပ် အစည်းအဝေးကို ကုမ္ပဏီမှတ်ပုံတင် ခွင့်ပြုသည့်နေ့မှ (၁၈)လအတွင်း လည်းကောင်း၊ နောင်လာမည့်နှစ်များအတွက် အစည်းအဝေးကို နှစ်စဉ် (၁၅)လထက်ကျော်လွန်ခြင်းမရှိ ပြက္ခဒိန်နှစ် မကျော်လွန်စေဘဲကျင်းပ၍၊ အစည်းအဝေးကျင်းပသည့်နေ့မှ(၂၁)ရက်အတွင်း ပုံစံ (င) (Form E) ဖြင့် မှတ်ပုံတင်ကြေးငွေ ၇၅/- ပေးသွင်းကာ မှတ်ပုံတင်ရန်၊ (ပုဒ်မ-၇၆) နှင့် ကုမ္ပဏီ၏ တစ်နှစ်အတွင်း အရောင်းအဝယ်၊ အရှုံးအမြတ်စာရင်းကို ပူးတွဲတင်ပြရန်၊

၅။ ကုမ္ပဏီ၏ ဒါရိုက်တာများ၏ နေရပ်လိပ်စာပြောင်းလဲသည့်အခါ၊ ပြောင်းလဲသည့်နေ့မှစ၍ (၁၄) ရက် အတွင်း သတ်မှတ်ပုံစံ (၂၆) ဖြင့် မှတ်ပုံတင်ကြေးငွေ ၇၅/- ပေးသွင်းပြီး မှတ်ပုံတင်ရန်၊ (ပုဒ်မ-၈၇)

၆။ သတ်မှတ်ပြဋ္ဌာန်းချက်နှင့်အညီ အထူးအစည်းအဝေး ဆုံးဖြတ်ချက်များ ပြုလုပ်ပါက (၁၅) ရက် အတွင်း မှတ်ပုံတင်ကြေးငွေ ၇၅/- ပေးသွင်းကာ မှတ်ပုံတင်ရန်၊ (ပုဒ်မ-၀၂)

၇။ အများနှင့် သက်ဆိုင်သော ကုမ္ပဏီများလည်း အထက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည့်အပြင် အောက်ပါ စာရွက်စာတမ်းနှင့်အတူ မှတ်ပုံတင်ရန် လိုအပ်ပါသည်။

(က) (Statutory Meeting) အစည်းအဝေးကို လုပ်ငန်း စတင်ဆောင်ရွက်ခွင့်ရပြီး၊ တစ်လထက်မစော၊ ခြောက်လထက် မပိုသော အချိန်တွင် ကျင်းပပြီး၊ (Statution Report) ကို အစည်းအဝေး ကျင်းပပြီး နောက် (၂၁) ရက် အတွင်း မှတ်ပုံတင်ရန်၊ {ပုဒ်မ-၇၇ (၁) (၂)}

(ခ) အထက်အပိုဒ် (၄) အရ ပထမအကြိမ် အထွေထွေအရပ်ရပ် အစည်းအဝေးကို ကုမ္ပဏီ တည်ထောင် ခွင့်ပြုသည့်နေ့မှ (၁၈)လ အတွင်း ကျင်းပရန် နောင်နှစ်များအတွင်း ပုံစံ (၁) (Form E) ကို အရှုံးအမြတ်ရှင်းတမ်း၊ ဒါရိုက်တာအဖွဲ့အစီရင်ခံစာ၊ စာရင်းစစ် အစီရင်ခံစာများနှင့်အတူ မှတ်ပုံတင်ရန်၊

မူရင်းမိတ္တူ
၆၆

# THE GOVERNMENT OF THE UNION OF MYANMAR
## MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT
## OFFICE OF THE REGISTRAR OF JOINT STOCK COMPANIES REGISTRATION
## CERTIFICATE OF REGISTRATION OF DOCUMENTS

No. 1002 of 2007-2008

IN THE MATTER OF JEWELLERY LUCKY PRODUCTION CO;LTD

I do hereby certify that persuant to the Myanmar Companies Act.

- Registration Fees for Authorised Capital.

Has/Have been this day duly filed and registered in this office

Dated Nay Pyi Taw, this ELEVENTH day of NOVEMBER,

Two Thousand and SEVEN.

### MEMORANDUM OF FEES PAID

Registering
For ..................................................
Filing

| | | | | K. | P. |
|---|---|---|---|---|---|
| 1. | Memorandum of Association | .......... | .......... | | |
| 2. | Articles of Association | .......... | .......... | | |
| 3. | Notice of situation of registered office and changes therein | .......... | .......... | | |
| 4. | Return of allotments | .......... | .......... | | |
| 5. | Annual list of members and summary of share Capital | .......... | .......... | | |
| 6. | Balance sheet | .......... | .......... | | |
| 7. | Special or extraordinary resolution | .......... | .......... | | |
| 8. | Particulars of mortgages and charges | .......... | .......... | | |
| 9. | Copy of Register of Directors, Managers, or Managing Agents and changes therein | .......... | .......... | | |
| 10. | Return of persons authorized to accept services of process and changes therein | .......... | .......... | | |
| 11. | Registration Fees for A/U Capital. | .......... | .......... | 1,000,000.00 | |
| | Total | | | : 1,000,000.00 | |

for Registrar

မူရင်းမိတ္တူ

Nann Yi Yi Than

Assistant Registrar)

1059

# FORM VI

## RETURN OF ALLOTMENTS
## THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)

Return of allotment from the 19th of December 200 7

on the 19th of December 200 7 of the * JEWELLERY LUCKY PRODUCTION CO.,LTD.

Made pursuant to Section 104(1)

Number of the shares allotted payable in cash ..... 5000 Shares

" " " " .....

Nominal amount of the shares so allotted ..... Ks.101,000/-

" " " " ..... (Fully Paid Up)

Amount paid or due and payable on each such share ..... Ks.50,000,000/-

" " " " .....

Number of ordinary shares allotted for a consideration other than cash

Nominal amount of the ordinary shares so allotted .....

Amount to be treated as paid on each such share .....

The consideration for which such share have been allotted is as follows:-

**NOTE:** In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.
Distinguish between preference, ordinary, or other description of shares.

ကြိုတင်
၇၂

# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

of Company : JEWELLERY LUCKY PRODUCTION CO.,LTD.

Presented by : U TIN NYUN

| present ...ian name ...ames of ...names | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| ...SEIN @ ...N | Myanmar 13/La Ta Na (Naing)059636 | No.838,Corner of U Wisaia Street & Yamanay 6 St; 34th Ward,Dagon (North) Township,Yangon. | Merchant | Appointed As M... Directorw.e.f- |
| ...UNG THAN | Myanmar 13/La Ya Na (Naing)055004 | No.7/16,Sagahwar Road,Block-8,Lashio Township, Northern Shan State. | Merchant | Appointed As D... w.e.f- 19. 12. |
| ...NYUNT | Myanmar 12/Ta Ma Na (Naing)036334 | No.749/Ka,Sawtika Street,16/1 Ward,Thingangyun Township,Yangon. | Merchant | Appointed As,D... w.e.f- 19.12.2... |
| ...N WIN | Myanmar 7/Pa Kha Na (Naing)169949 | No.9/273,Widuya Street,Bago Township,Bago Division. | Merchant | Appointed As D... w.e.f- 19.12.2... |
| ...UNG HTIKE MIN | Myanmar 9/Ma Hta La (Naing)001930 | No.62/E,Shwe Hnin Thar Street,11st Ward,Hlaing Township,Yangon. | Merchant | Appointed As D... w.e.f- 19. 12. |

(1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word ........................................................................ " and by writing against any former Director's name the word "dead" "resigned" or as the case may be givin change against the entry.

: 19.12.2007

JEWELLERY LUCKY PRODUCTION CO.,LTD. Yangon, Myanmar.

ကြိုတင်

Signature ........................................

Director

Designation ......Jewellery Lucky Production

ဿရံ၀င်

၇၃

FORM XXVI

PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

005

Name of Company : JEWELLERY LUCKY PRODUCTION CO.,LTD.

Presented by : U TIN

| The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | C |
|---|---|---|---|---|
| .DAW HRAUK PHEIN | Myanmar 13/La Ya Na (Naing)085493 | Nawe Hyay (7),Block-5,Lashio Township,Northern Shan State. | Merchant | Appointed w.e.f- 19 |
| .DAW KHIN MYAY MON | Myanmar 7/Da Ou Na (Naing)049956 | No.12.5th Floor,Sawyanpine South Ward,Yama Street, Alone Township,Yangon. | Merchant | Appointed w.e.f- |

OTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the ............................................................................ " and by writing against any former Director's name the word "dead" "resigned" or as the case may change against the entry.

JEWELLERY LUCKY PRODUCTION CO.,LTD. • Yangon.Myanmar.

ated this ...19.12.2007...

ဿရံ၀င်

Signature ............

Di

Designation ........ Jewellery Lucky